Betagro (Myanmar) Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

မျိုးကြက် မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်း(Broiler Hatchery and Breeder Farm)

| စဉ် | ဆောင်ရွက်သည့် အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက် တင်ပြလာခြင်း | | ၂-၁၂-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service)<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၉-၁၂-၂၀၁၉<br>၉-၁၂-၂၀၂၀ | ၁၈-၁၂-၂၀၁၉<br>၂၉-၁၂-၂၀၁၉ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၄၂/၂၀၁၉ (၉-၁၂-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၁၇-၁၂-၂၀၁၉ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင် တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၁၇-၁၂-၂၀၁၉ | ၈-၁-၂၀၂၀ | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၂/၂၀၂၀ (၂၄-၁-၂၀၂၀) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၅၃) ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ သွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | Betagro (Myanmar) Company Limited |
| လုပ်ငန်းအမျိုးအစား | မျိုးကြက် မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်း<br>(Broiler Hatchery and Breeder Farm) |
| PATအကြိမ်/နေ့စွဲ | ၄၂/၂၀၁၉ (၉-၁၂-၂၀၁၉) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(X) | မှတ်ချက် |
|---|---|---|---|
| ၁ | အခွန်ထမ်းဖြစ်ရန်အတွက် အလယ်အလတ် အခွန်ထမ်းများ ဆိုင်ရာ အခွန်ရုံး (MTO-2)တွင် မှတ်ပုံတင်ရန်။ | ✔ | |
| ၂ | တင်သွင်းမည့် စက်ပစ္စည်းများ၏ HS Code များ ဖော်ပြရန်နှင့် အမျိုးအစားများ ပြည့်စုံစွာ ဖော်ပြရန်။ | ✔ | |
| ၃ | အဆိုပြုချက် ပုံစံ-၂ တွင် စက်ပစ္စည်း စာရင်းများကို ပြည်တွင်း/ ပြည်ပ ခွဲခြား ဖော်ပြပေးရန်နှင့် နောက်ဆက်တွဲ ဇယားများကို တူညီစွာ ဖော်ပြပေးရန်။ | ✔ | |
| ၄ | လျှပ်စစ်ဓာတ်အားသုံးစွဲမှုကို Single Line Diagram ဖြင့် ဖော်ပြရန်။ | ✔ | |
| ၅ | မြေငှားစာချုပ် (မူကြမ်း)တွင် Myanmar Arbitration Law 2016 ဟု ပြင်ဆင် ပေးရန်။ | ✔ | |
| ၆ | ကုန်ကြမ်းစာရင်းအား ပြည်တွင်း/ပြည်ပ ခွဲခြားဖော်ပြပေးရန်။ | ✔ | |
| ၇ | Waste Management အစီအစဉ် တင်ပြပေးရန်။ | ✔ | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ မျိုးကြက် မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Betagro (Myanmar) Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Vasit Taepaisitphongse (Thai) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Betagro Public Co., Ltd. (Thailand) ၈၀%<br>Shwe Me Co., Ltd. (Myanmar) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - မျိုးကြက် မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်း (Broiler Hatchery and Breeder Farm) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- (၂၆၀၊ ၂၆၁၊ ၂၆၂ ၊ ၂၉၂၊ ၂၉၃၊ ၂၉၄)၊ ကွင်းအမှတ်- (၉၇၇)၊ အထယုကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - ဦးနိုင်မိုး |
| | မြေအကျယ်အဝန်း | စုစုပေါင်း မြေ (၃၀)ဧက |
| ၄။ | မြေငှားရမ်းခ | - တစ်နှစ် မြေ (၁)ဧကအတွက် မြေငှားရမ်းခနှုန်း US$ ၂,၉၆၇.၁၅<br>- တစ်နှစ် မြေ (၃၀)ဧကအတွက် မြေငှားရမ်းခနှုန်း US$ ၈၉,၀၁၄.၅၆ |
| | မြေငှားရမ်းအသုံးပြုခွင့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ | - ၂ နှစ် |

၆။ စုစုပေါင်းမတည်ငွေရင်း - အမေရိကန်ဒေါ်လာ ၇.၇၅ သန်း(ချေးငွေ US$ ၃.၇၅ သန်း အပါအဝင်)

| ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ | | ပြည်တွင်း | | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|---|
| | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | |
| ငွေသား | ၀.၂၅၀ | - | ၀.၀၄၀ | ၀.၀၄၀ | ၀.၃၃၀ |
| စက်ပစ္စည်းတန်ဖိုး (ပြည်ပ) | ၂.၀၃၁ | ၂.၀၃၁ | - | - | ၄.၀၆၂ |
| စက်ပစ္စည်းတန်ဖိုး (ပြည်တွင်း) | ၀.၈၈၉ | ၀.၉၃၉ | ၀.၀၈၆ | ၀.၀၃၆ | ၁.၉၅၀ |
| အဆောက်အဦ ဆောက်လုပ်မှုကုန်ကျစရိတ် | - | - | ၀.၆၄၃ | ၀.၆၄၃ | ၁.၂၈၆ |
| အခြား | ၀.၀၃၀ | ၀.၀၃၀ | - | - | ၀.၀၆၀ |
| မော်တော်ယာဉ် | - | - | ၀.၀၃၁ | ၀.၀၃၁ | ၀.၀၆၂ |
| စုစုပေါင်း | ၃.၂၀၀ | ၃.၀၀၀ | ၀.၈၀၀ | ၀.၇၅၀ | ၇.၇၅၀ |

၇။ ဝန်ထမ်းအင်အား - ၅၉ ဦး

ပြည်တွင်း - ၅၇ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၂၂၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၁၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၂ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၂,၂၇၅,၀၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%

ထုတ်လုပ်မှု (ဒုတိယနှစ်မြောက်)

| စဉ် | အမျိုးအစား | အရေအတွက် (Head/ Million) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Head) |
|---|---|---|---|
| (က) | Broiler Chick | ၁.၃၃၄ | ၇၅၀ |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၅၀၀,၀၀၀ ယူနစ်

၁၀။ အခြားတင်ပြချက် - မြေ အထောက်အထားအဖြစ် ဦးနိုင်မိုး အမည်ဖြင့် ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေး လုပ်ငန်းအတွက်လုပ်ကိုင်ခွင့်အထောက်အထားနှင့် မြေစာရင်း ပုံစံ- ၁၀၅ တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးနိုင်မိုး နှင့် Betagro (Myanmar) Company Limited တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) နှင့် ထိုင်းနိုင်ငံမှ Betagro Public Co., Ltd. နှင့် မြန်မာနိုင်ငံမှ Shwe Me Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် Joint Venture Agreement တို့ကိုလည်း တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် ပြည်တွင်းဘဏ် တစ်ခုခုမှ ချေးငွေ US$ ၃,၇၅၀,၀၀၀ အား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>-ပြည်ပမှ တင်သွင်းမည့် Broiler Breeder Farm အတွက် US$ ၁,၁၄၅,၃၆၂၊ Breeder Chicken Housing အတွက် US$ ၁,၄၆၈,၅၀၀ ၊ Hatchery Housing အတွက် US$ ၅၅၅,၃၃၄ ၊ Hatchery အတွက် US$ ၈၅၆,၈၀၄ ၊ Spare Parts အတွက် US$ ၃၆,၀၀၀ ၊ နှစ်အလိုက် တင်သွင်းမည့် DOC Breeder နှင့် Animal Drug စာရင်းများ တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Betagro Public Co., Ltd. အမည်ဖြင့် Bangkok ရှိ SCB ဘဏ်တွင် ၂၉-၁၀-၂၀၁၉ ရက်စွဲဖြင့် THB ၄,၇၇၄,၇၀၇.၄၀ နှင့် Shwe Me Co., Ltd. အမည်ဖြင့် CB Bank တွင် ၈-၁-၂၀၂၀ ရက်စွဲဖြင့် US$ ၃,၈၂၅,၂၅၈.၂၉ ရှိကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Plan တို့ကို တင်ပြ ထားပါသည်။<br>- Process Flow Diagram ၊ အဆောက်အဦပုံများ၊ လုပ်ငန်း ဆောင်ရွက်နေပုံများ၊ ကြက်ပေါက် ပုံများ နှင့် Layout Plan ၊ Single Line Diagram နှင့် Farm Waste Management System များ တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC 0146 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၆၄/၂၀၂၀( ၀၁၇ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် ဇန်နဝါရီလ ၂၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ မျိုးကြက် မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံရှိ Betagro Public Co., Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံရှိ Shwe Me Co., Ltd. မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ ဦးပိုင်အမှတ်- (၂၆၀၊ ၂၆၁၊ ၂၆၂ ၊ ၂၈၂၊ ၂၈၃၊ ၂၈၄)၊ ကွင်းအမှတ်- (၉၇၇)၊ အထယုကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ(၃၀)ကေအား ငှားရမ်း၍ မျိုးကြက် မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးနိုင်မိုး နှင့် Betagro (Myanmar) Company Limited **တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)**၊ ထိုင်းနိုင်ငံမှ Betagro Public Co., Ltd. နှင့် မြန်မာနိုင်ငံမှ Shwe Me Co., Ltd. တို့အကြား ချုပ်ဆိုထားသည့် Joint Venture Agreement ၊ ဦးနိုင်မိုးအမည်ဖြင့် ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေး လုပ်ငန်းအတွက်လုပ်ကိုင်ခွင့် အထောက်အထားနှင့် မြေစာရင်း ပုံစံ- ၁၀၅ အထောက်အထားများ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ တစ်နှစ် မြေ (၁)ကေအတွက် မြေငှားရမ်းခနှုန်း US$ ၂,၉၆၇.၁၅ ဖြစ်ပြီး တစ်နှစ် မြေ (၃၀)ကေ အတွက် မြေငှားရမ်းခနှုန်း US$ ၈၉,၀၁၄.၅၆ ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ **US$ ၇.၇၅ သန်း (ချေးငွေ US$ ၃.၇၅ သန်း အပါအဝင်)** ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ | | ပြည်တွင်း | | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|---|
| | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | |
| ငွေသား | ၀.၂၅၀ | - | ၀.၀၄၀ | ၀.၀၄၀ | ၀.၃၃၀ |
| စက်ပစ္စည်းတန်ဖိုး (ပြည်ပ) | ၂.၀၃၁ | ၂.၀၃၁ | - | - | ၄.၀၆၂ |
| စက်ပစ္စည်းတန်ဖိုး (ပြည်တွင်း) | ၀.၈၈၉ | ၀.၉၃၉ | ၀.၀၈၆ | ၀.၀၃၆ | ၁.၉၅၀ |
| အဆောက်အဦ ဆောက်လုပ်မှု ကုန်ကျစရိတ် | - | - | ၀.၆၄၃ | ၀.၆၄၃ | ၁.၂၈၆ |
| အခြား | ၀.၀၃၀ | ၀.၀၃၀ | - | - | ၀.၀၆၀ |
| မော်တော်ယာဉ် | - | - | ၀.၀၃၁ | ၀.၀၃၁ | ၀.၀၆၂ |
| စုစုပေါင်း | ၃.၂၀၀ | ၃.၀၀၀ | ၀.၈၀၀ | ၀.၇၅၀ | ၇.၇၅၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၅၇)ဦး နှင့် ပြည်ပဝန်ထမ်း (၂)ဦး စုစုပေါင်း ဝန်ထမ်းဦးရေ(၅၉)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၂၅,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၁၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၂,၂၇၅,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ကြက်သားပေါက်များကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (Head/ Million) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ Head) |
|---|---|---|---|
| (က) | Broiler Chick | ၁.၃၃၄ | ၇၅၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ Betagro (Myanmar) Company Limited ၏ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ မြေ (၃၀)ဧကအား ငှားရမ်း၍ မျိုးကြက်မွေးမြူရေးနှင့် သားဖောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice-GAHP) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(က)

(ခ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ အဆောက်အဦများ တည်ဆောက်ခြင်း၊ ယာဉ်ယန္တရားများ အသုံးပြုခြင်း၊ အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများ၊ ရေအားစနစ်အသုံးပြုခြင်း တို့ကြောင့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။ သို့ဖြစ်၍ ပတ်ဝန်းကျင်ဆိုင်ရာ ဆန်းစစ်ချက် လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန် သုံးသပ်ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Betagro Public Co., Ltd. အမည်ဖြင့် Bangkok ရှိ SCB ဘဏ်တွင် ၂၉-၁၀-၂၀၁၉ ရက်စွဲဖြင့် THB ၄,၇၇၄,၇၀၇.၄၀၀ နှင့် Shwe Me Co., Ltd. အမည်ဖြင့် CB Bank တွင် ၈-၁-၂၀၂၀ ရက်စွဲဖြင့် US$ ၃,၈၂၅,၂၅၈.၂၉၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် ပြည်တွင်းဘဏ် တစ်ခုခုမှ ချေးငွေ US$ ၃,၇၅၀,၀၀၀ အား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။

၁၁။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Plan ၊ Process Flow Diagram ၊ အဆောက်အဦပုံများ၊ လုပ်ငန်းဆောင်ရွက်နေပုံများ၊ ကြက်ပေါက် ပုံများ နှင့် Layout Plan ၊ Single Line Diagram နှင့် Farm Waste Management System များ တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၄၂/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် Broiler Breeder Farm အတွက် US$ ၁,၁၄၅,၃၆၂၊ Breeder Chicken Housing အတွက် US$ ၁,၄၆၈,၅၀၀ ၊ Hatchery Housing အတွက် US$ ၅၅၅,၃၃၄ ၊ Hatchery အတွက် US$ ၈၅၆,၈၀၄ ၊ Spare Parts အတွက် US$ ၃၆,၀၀၀ ၊ နှစ်အလိုက် တင်သွင်းမည့် DOC Breeder နှင့် Animal Drug စာရင်းများ တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0146 တွင် အကျုံးဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ မျိုးကြက်မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

နောက်ဆက်တွဲ-က

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၄၁၄ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၆၄/ ၂၀၁၉ (၃၉၂)

၁။ Betagro (Myanmar) Company Limited သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ( ၂၆၀ ၊၂၆၁ ၊၂၆၂ ၊၂၉၂ ၊၂၉၃ ၊၂၉၄ ) ၊ ကွင်းအမှတ်- (၉၇၇) ၊ အထယုကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်း ဒေသကြီးရှိ မြေ (၃၀) ဧကအား ငှားရမ်း၍ မျိုးကြက်မွေးမြူရေးနှင့် သားဖောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြု လုပ်ငန်းနှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး၊ ခေတ္တတိုင်းဒေသကြီးဦးစီးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးချက်များအရ-

(က) ကုမ္ပဏီမှ ငှားရမ်းထားသည့် မြေ (၃၀) ဧကတွင် မည်သည့်လုပ်ငန်းမှ ဆောင်ရွက်ထားမှု မရှိသေးပါကြောင်း၊

(ခ) ကုန်ထုတ်လမ်းအနေဖြင့် မြေသားလမ်းဖြစ်ပြီး ချိုင့်ခွက်များရှိနေသဖြင့် ပြန်လည်ပြုပြင်ရန် လိုအပ်ပါကြောင်း၊

(ဂ) အနီးပတ်ဝန်းကျင်တွင် အခြားကြက်မွေးမြူရေးခြံများ တည်ရှိနေသဖြင့် ၎င်းမျိုးကြက်မွေးမြူရေးနှင့် သားဖောက်ခြင်းလုပ်ငန်းအား ဇီဝလုံခြုံမှုအပြည့်အဝ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

ST/D/MIC/Letter (LBVD)

၃။ သို့ဖြစ်ပါ၍ Betagro (Myanmar) Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်ရှိ မြေ (၃၀) ဧကအား ငှားရမ်း၍ မျိုးကြက်မွေးမြူရေးနှင့် သားဖောက်ခြင်း လုပ်ငန်းဆောင်ရွက်ရာတွင် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ကောင်းမွန်သော မွေးမြူရေးကျင့်စဉ် ( Good Animal Husbandry Practice – GAHP ) နည်းစနစ်များနှင့်အညီ မွေးမြူမည်ဆိုပါက စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ။

- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှော

နောက်ဆက်တွဲ- ခ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC (OSS)/ ၀၁( ၆၀/၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

AA15 MIC, 18/12

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Betagro(Myanmar) Company Limited မှ မျိုးကြက်မွေးမြူခြင်းနှင့်သားဖောက်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉-၁၂-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၆၄/၂၀၁၉ (၃၈၈)

၁။ ထိုင်းနိုင်ငံရှိ Betagro Public Co., Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံရှိ Shwe Me Co., Ltd. မှ ၂၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Betagro (Myanmar) Company Limited မှ တည်ထောင်ကာဦးပိုင်အမှတ်- (၂၆၀၊ ၂၆၁၊ ၂၆၂၊ ၂၉၂၊ ၂၉၃၊ ၂၉၄) ကွင်းအမှတ် (၉၇၇) အထယု ကွင်း၊ ကလီထော်အနောက်ကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေ ၃၀ ဧက(၁၂၁,၄၀၅.၆၉၂၆၇၂ စတုရန်းမီတာ)အား ငှားရမ်း၍ မျိုးကြက်မွေးမြူခြင်းနှင့် သားဖောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသောရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအားစိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည်-

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ ၃၀ ဧက ( ၁၂၁,၄၀၅.၆၉၂၆၇၂ စတုရန်းမီတာ)တွင် မျိုးကြက်မွေးမြူခြင်းနှင့် သားဖောက်ခြင်းလုပ်ငန်းအတွက် လိုအပ်သည့်အဆောက်အဦများတည်ဆောက်ကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှနှစ်စဉ် မျိုးကြက်ကောင်ရေ(၂၄၀၀၀)ခန့်တင်သွင်းမည်ဖြစ်ပြီးထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ကြက်သားပေါက်ကောင်ရေ (၁) သန်းခန့်နှင့် (၁၀) နှစ်အတွင်းကောင်ရေ (၁၂) သန်းကျော်ထိ ဈေးကွက်အပေါ်မူတည်၍ တိုးမြှင့်ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှ နှစ်စဉ်ရေကုဗ်မီတာ (၆၀၀၀$m^3$) ခန့်အားအသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

( င ) ဝန်ထမ်းများ သက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

( စ ) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၃%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Betagro (Myanmar) Company Limited မှ မျိုးကြက်မွေးမြူခြင်းနှင့် သားဖောက်ခြင်းလုပ်ငန်းအတွက် အဆောက်အဦများ တည်ဆောက်ရာတွင် မြေပြုပြင်ရေးလုပ်ငန်းများဆောင်ရွက်ရာမှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအ ငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

( ခ ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

( ဂ ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင်လိုအပ်သည့်ရေအားစနစ်တကျထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

( င ) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျသန့်စင်ခြင်းမရှိဘဲစွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ မျိုးရင်းကြက်မွေးမြူရာတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန်အသုံးပြုသည့်ဟိုမုန်းဆေးများ၏ အကြွင်းအကျန်များကြောင့် ပတ်ဝန်းကျင် လေထု၊ မြေထု၊ ရေထုညစ်ညမ်းခြင်း၊

( စ ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ဆေးဖြန်းခြင်း၊ လိုအပ်သည့် အစီအမံများ စီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးကြက်တွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများ ဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာစေနိုင်ပါသည်။ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံးယာဉ်/ ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိလေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှုဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ